# Myanmar C.P. Livestock Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

## အသားစားမျိုးကြက်ခြံနှင့် မျိုးကြက်ပေါက် ရောင်းချခြင်း လုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၂၃-၇-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထား တောင်းခံခြင်း<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၂၅-၇-၂၀၁၉ | ၉-၈-၂၀၁၉ | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၂၅-၇-၂၀၁၉ | ၃၀-၇-၂၀၁၉ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၅/၂၀၁၉ (၂၉-၇-၂၀၁၉) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၃၀-၇-၂၀၁၉ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်အရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၆-၈-၂၀၁၉ | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်အရ ကုမ္ပဏီ မှ ပြင်ဆင် တင်ပြခြင်း | ၂၆-၈-၂၀၁၉ | | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၄/၂၀၁၉ ၃၀-၈-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၃၉) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Myanmar C.P. Livestock Co., Ltd.

လုပ်ငန်းအမျိုးအစား အသားစားမျိုးကြက်ခြံနှင့် မျိုးကြက်ပေါက် ရောင်းချခြင်း လုပ်ငန်း

PATအကြိမ်/နေ့စွဲ ၂၅/၂၀၁၉ (၂၉-၇-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး ✓<br>မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်အား kWh ဖြင့် တင်ပြ ပေးရန်။ | ✓ | |
| ၂ | ရင်းနှီးမြှုပ်နှံမှုတွင် ဖော်ပြထားသည့် စက်ပစ္စည်း၊ စက်ကိရိယာများ၊ လုပ်ငန်းသုံး ပစ္စည်းများ၊ ပရိဘောဂနှင့် ရုံးသုံးပစ္စည်းများအား နောက်ဆက်တွဲများဖြင့် ပြည့်စုံစွာ တင်ပြပေးရန်။ | ✓ | |
| ၃ | ပြည်ပချေးငွေရယူမှုအား သေချာစွာ ဖော်ပြပေးရန်။ | ✓ | |

အကြောင်းအရာ။ ရခိုင်နှင့်ပြည်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Co., Ltd. မှ အသားစားမျိုးကြက်ခြံနှင့် မျိုးကြက်ပေါက်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar C.P Livestock Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Uthai Tantipimolphan (Thai) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်နှင့်ပြည်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Thana Holding Co., Ltd. (Thailand) ၂၇ % |
| | | Charoen Pokphand Enterprise Co., Ltd.(Thailand) ၂၅% |
| | | CPG Enterprise Ltd. (British Virgin Islands) ၄၈% |
| | လုပ်ငန်းအမျိုးအစား | - အသားစားမျိုးကြက်ခြံနှင့် မျိုးကြက်ပေါက် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- ၂၄၊ ၂၅၊ ၃၈၊ ၃၉၊ ၄၀၊ ၄၄၊ ၄၅၊ ၄၆၊ ၄၈၊ ကွင်းအမှတ်-၁၂၅ᵏ၊ ကတိုးမြောက်ကွင်း၊ စွန်ရဲကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးလှဝေ (မြတ်မင်းကုမ္ပဏီ လီမိတက်) |
| | မြေအမျိုးအစား | - စက်မှု/ စီးပွား |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၂၉.၁၃၇ဧက |
| ၄။ | နှစ်စဉ် မြေနှင့် အဆောက်အဦ ငှားရမ်းခ | - တစ်နှစ်လျှင် မြေငှားရမ်းခ ကျပ် ၅၄၅,၇၂၄,၀၀၀ နှင့် ဝန်ဆောင်ခ ကျပ် ၁၈၁,၉၀၈,၀၀၀<br>- စုစုပေါင်း ကျပ် ၇၂၇,၆၃၂,၀၀၀ |
| | မြေနှင့် အဆောက်အဦ ငှားရမ်းအသုံးပြုခွင့် သက်တမ်း | - ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၃၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - အမေရိကန်ဒေါ်လာ ၇.၀၁၂ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၄.၉၀၉ သန်းအပါအဝင်) |

| | | |
|---|---|---|
| | ထည့်ဝင်သည့်အမျိုးအစား | (see table below) |

| | | ဈေးငွေ (US$/သန်း) | ထည့်ဝင်ငွေ (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၂.၃၉၀ | | ၂.၃၉၀ |
| (ခ) | မွေးမြူရေးခြံ | ၂.၅၁၉ | ၁.၇၀၅ | ၄.၂၂၄ |
| (ဂ) | အဆောက်အအုံနှင့် အစိတ်အပိုင်းများ | | ၀.၃၉၈ | ၀.၃၉၈ |
| | စုစုပေါင်း | ၄.၉၀၉ | ၂.၁၀၃ | ၇.၀၁၂ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၅၃ ဦး |
| | ပြည်တွင်း | - ၅၃ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| | နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်) | (see table below) |

| စဉ် | အမျိုးအစား | အရေအတွက် (bird) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ bird) |
|---|---|---|---|
| (က) | Day Old Chick | ၁,၆၃၂၀,၀၀၀ | ၆၀၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၅၀,၀၀၀ kWh |
| ၁၀။ | အခြားတင်ပြချက် | - မြေ အထောက်အထား အဖြစ် ဦးလှဝေ အမည်ဖြင့် ကျောက်ဆည် ခရိုင်၊ အထွေထွေအုပ်ချုပ် ရေးဦးစီးဌာနမှ ကြက်မွေးမြူရေးခြံအတွက် မြေအသုံးပြုခွင့် ရရှိထားသော အထောက်အထားများအားတင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးလှဝေမှ မြတ်မင်း ကုမ္ပဏီ လီမိတက် (ဦးဖြိုးလှဝေ) သို့ အထူး ကိုယ်စားလှယ် လွှဲအပ်ထားသည့် စာအား တင်ပြထားပါသည်။<br>- မြတ်မင်းကုမ္ပဏီလီမိတက် နှင့် Myanmar C.P. Livestock Co., Ltd. တို့ချုပ်ဆိုမည့် Land Use and Project Investment Agreement (မူကြမ်း)၊ စက်ရုံ Layout Plan နှင့် တည်နေရာပြမြေပုံ တို့ကိုတင်ပြထား ပါသည်။ |

| | | |
|---|---|---|
| | | - Myanmar C.P Livestock Co., Ltd. သည် ပြည်ပရှိ ဘဏ်ကောက်ဘဏ်မှ ချေးငွေ US$ ၄,၉၀၈,၇၅၄ ချေးယူမည် ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်တို့ကို တင်ပြ ထားပါသည်။<br>- ဒါရိုက်တာများ၏ Passport မိတ္တူများ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ဘဏ်ကောက်ဘဏ်တွင် Myanmar C.P Livestock Co., Ltd. အမည်ဖြင့် ၃၁-၃-၂၀၁၉ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြ ထားပါသည်။<br>- ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အတွင်း လုံခြုံမှု ထားရှိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- Tnana Holding Co., Ltd. နှင့် Charoen Pokphand Enterprise Co., Ltd. ၏ Certificate များနှင့် CPG Enterprise Co., Ltd. ၏ အမည်ပြောင်းထောက်ခံချက်တင်ပြထားပါသည်။<br>- Myanmar C.P. Livestock Co., Ltd. သည် ၂၀၁၇-၂၀၁၈ စည်းကြပ်နှစ်အထိ အခွန်စည်းကြပ်မှုခံယူ၍ ကျသင့်သော အခွန်များအပြေအကြေပေးသွင်းပြီးဖြစ်ပါကြောင်း ထောက်ခံစာအားတင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။<br>-အဆိုပြုလုပ်ငန်းသည် ဇုန်(၂)တွင် ပါဝင်ပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၄၈/၂၀၁၉( ၂၅၃ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဩဂုတ်လ ၂၇ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Co., Ltd. မှ အသားစားမျိုးကြက်ခြံနှင့် မျိုးကြက်ပေါက်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ ထိုင်းနိုင်ငံ ရှိ Thana Holding Co., Ltd. မှ ၂၇ %၊ Charoen Pokphand Enterprise Co., Ltd. မှ ၂၅% နှင့် British Virgin Islands ရှိ CPG Enterprise Ltd. မှ ၄၈% အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar C.P. Livestock Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၂၄၊ ၂၅၊ ၃၈၊ ၃၉၊ ၄၀၊ ၄၄၊ ၄၅၊ ၄၆၊ ၄၈၊ ကွင်းအမှတ်-၁၂၅ က၊ ကတိုးမြောက်ကွင်း၊ စွန်ရဲကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၂၉.၁၃၇ ဧက အား ငှားရမ်း၍ အသားစားမျိုးကြက်ခြံနှင့် မျိုးကြက်ပေါက်ရောင်းချခြင်းလုပ်ငန်း အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် ဦးလှဝေ အမည်ဖြင့် ကျောက်ဆည်ခရိုင်၊ အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနမှ ကြက်မွေးမြူရေးခြံအတွက် မြေအသုံးပြုခွင့် ရရှိထားသောအထောက်အထား၊ မြေပိုင်ရှင် ဦးလှဝေမှ မြတ်မင်းကုမ္ပဏီလီမိတက် (ဦးဖြိုးလှဝေ) သို့ အထူးကိုယ်စားလှယ် လွှဲအပ်ထားသည့်စာ၊ မြတ်မင်းကုမ္ပဏီလီမိတက်နှင့် Myanmar C.P. Livestock Co., Ltd. တို့ ချုပ်ဆိုမည့် Land Use and Project Investment Agreement (မူကြမ်း)၊ စက်ရုံ Layout Plan နှင့် တည်နေရာပြ မြေပုံတို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခမှာ မြေနှင့် အဆောက်အဦ ငှားရမ်းခ ကျပ် ၅၄၅,၇၂၄,၀၀၀ နှင့် ဝန်ဆောင်ခ ကျပ် ၁၈၁,၉၀၈,၀၀၀ စုစုပေါင်း ကျပ် ၇၂၇,၆၃၂,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

| | | ချေးငွေ (US$/သန်း) | ထည့်ဝင်ငွေ (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၂.၃၉၀ | | ၂.၃၉၀ |
| (ခ) | မွေးမြူရေးခြံ | ၂.၅၁၉ | ၁.၇၀၅ | ၄.၂၂၄ |
| (ဂ) | အဆောက်အအုံနှင့်အစိတ်အပိုင်းများ | | ၀.၃၉၈ | ၀.၃၉၈ |
| | စုစုပေါင်း | ၄.၉၀၉ | ၂.၁၀၃ | ၇.၀၁၂ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၅၃)ဦး ခန့်ထားရာတွင် ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် မျိုးကြက်ပေါက်များအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (bird) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ bird) |
|---|---|---|---|
| (က) | Day Old Chick | ၁,၆၃၂၀,၀၀၀ | ၆၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း ကြက်မွေးမြူ ထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာမည် ဖြစ်ပြီး မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနက ပြဋ္ဌာန်းထားသည့် မွေးမြူရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်၍ ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice- GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

(ခ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊(၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (ခ)

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ဘန်ကောက်ဘဏ်တွင် Myanmar C.P. Livestock Co., Ltd. အမည်ဖြင့် ၃၁-၃-၂၀၁၉ ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း ဘဏ် အထောက်အထား တင်ပြထားပါသည်။

၁၀။ Myanmar C.P. Livestock Co., Ltd. သည် ပြည်ပရှိ ဘန်ကောက်ဘဏ်မှ ချေးငွေ US$ ၄,၉၀၈,၇၅၄ ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ် တို့ကိုတင်ပြထား ပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အတွင်း လုံခြုံမှု ထားရှိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဇူလိုင်လ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၅/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-0146 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Co., Ltd. မှ အသားစား မျိုးကြက်ခြံနှင့် မျိုးကြက်ပေါက်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြ လာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၂၇၂ /၂၀၁၉)

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၆ ရက်

NPT-3415
13-8-19

သို့

MIC 296 15/8

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၇-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-ဝ၄၈/၂၀၁၉(၂၁၄)

၁။ Myanmar CP Livestock Co., Ltd သည် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၂၄၊ ၂၅၊ ၃၈၊ ၃၉၊ ၄၀၊ ၄၄၊ ၄၅၊ ၄၆၊ ၄၈၊ ကွင်းအမှတ်-၁၂၅ က ၊ ကတိုးမြောက်ကွင်း၊ စွန်ရဲကျေးရွာအုပ်စု၊ စဥ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ (၂၉.၁၃၇) ဧက (၁၁၇,၂၇၆.၄၃ စတုရန်းမီတာ) ကို ငှားရမ်း၍ အသားစားကြက်ပေါက် မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီး၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ တိုင်းဒေသကြီးဦးစီးမှူး ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ရာ အသားစားကြက်ပေါက် မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့် မြေ (၂၉.၁၃၇) ဧက သည် လယ်ယာမြေ အခြားနည်းအသုံးပြုခွင့် ရရှိထားခြင်း၊ ၁၃-၁-၂၀၄၉ ရက်အထိ နှစ်(၃၀) စက်မှုစီးပွားမြေငှားဂရန် ရရှိထားခြင်း၊ ယာမြေညံ့ အမျိုးအစားဖြစ်၍ လက်ရှိစိုက်ပျိုးလုပ်ကိုင်နေသော ပတ်ဝန်းကျင်ရှိ လယ်ယာမြေများအား ထိခိုက်မှုမရှိခြင်း၊ ဆည်ရေသောက်ရေီယာမှ လွတ်ကင်းခြင်း၊ အများပြည်သူတို့ အသုံးပြုနေသော လမ်းများ၊ လယ်ယာထွက်ကုန်လမ်းများနှင့် လွတ်ကင်းပြီး ထိခိုက်မှု မရှိခြင်း၊ အဆိုပါမြေပေါ်၌ Evaporated Cooling System ဖြင့် မွေးမြူမည့် အသားစားကြက်ခြံ (၁၂)ခြံ၊ စားသောက်ဆိုင်၊ ဝန်ထမ်းနေအိမ်နှင့် ရုံးခန်းများ ဆောက်လုပ်လျက်ရှိနေခြင်း တို့အား တွေ့ရှိရပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar CP Livestock Co., Ltd သည် စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ (၂၉.၁၃၇)ဧက တွင် အသားစားကြက်ပေါက်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း ကြက်မွေးမြူထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပြီး မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနက ပြဋ္ဌာန်းထားသည့် မွေးမြူရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်၍ ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice- GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

နောက်ဆက်တွဲ- ခ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၄၈/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၃၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar C.P. Livestock Co., Ltd. မှ အသားစားကြက်ပေါက်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၇-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၄၈/၂၀၁၉ (၂၁၂)

၁။ ထိုင်းနိုင်ငံရှိ Thana Holding Co., Ltd. မှ ၂၇%၊ Charoen Pokphand Enterprise Co., Ltd. မှ ၂၅% နှင့် British Virgin Islands ရှိ CPG Enterprise Ltd. မှ ၄၈% အစုရှယ်ယာများအသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar C.P. Livestock Co., Ltd. တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၂၄၊ ၂၅၊ ၃၈၊ ၃၉၊ ၄၀၊ ၄၄၊ ၄၅၊ ၄၆၊ ၄၈၊ ကွင်းအမှတ်- ၁၂၅ (က)၊ ကတိုးမြောက်ကွင်း၊ စွန်ရဲကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၂၉.၁၃၇ ဧက (၁,၁၇,၂၇၆.၄၃ စတုရန်းမီတာ) အား ငှားရမ်း၍ အသားစားကြက်ပေါက် မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၁,၁၇,၂၇၆.၄၃ စတုရန်းမီတာ) တွင် လိုအပ်သောအဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ နှစ်စဉ် ကြက်သားပေါက်ကောင်ရေ (၁၆) သန်းကျော်အထိ သားဖောက်မွေးမြူ ထုတ်လုပ်ကာ ဈေးကွက်အတွင်း ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းအတွက် လိုအပ်သည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ငန်းကိုလည်းရေးဆွဲ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar C.P. Livestock Co., Ltd. မှ အသားစားကြက်ပေါက်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်း သုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီး ပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စနစ်တကျ သန့်စင်ခြင်းမရှိဘဲ စွန့်ပစ်ပါက မြေပေါ်နှင့် မြေအောက်ရေ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ မျိုး ကြက်မွေးမြူရာတွင် အသုံးပြုသည့် ကာကွယ်ဆေးများနှင့် ကြီးထွားရန် အသုံးပြုသည့် ဟိုမုန်းဆေးများ၏ အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထု ညစ်ညမ်းခြင်း၊

(စ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးကြက်တွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar C.P. Livestock Co., Ltd. မှ အသားစားကြက်ပေါက်မွေးမြူခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ **စီမံကိန်းအဆိုပြုသူသည်** ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း **(EnvironmentalImpact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်

ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

20/12/18

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ